3) **SOLUTION FOR THE WASTE WATER TREATMENT**

In Thailand, there are two most Practice Systems, Stabilization Pond and Aerated Lagoon which both systems accepted by Thai Industrial Standard's practice.




The two typical design with Layout Drawings provided.

*******************

# TYPICAL LAYOUT FOR WASTED WATER 200 $M^3$/DAY




## 1.STABILIZATION SYSTEM

(1) RECEIVING/FILTER POND

(2) STONE/SAND DROP CHANNEL

(3) FILTER SCREEN

| | SIZE W x L x D ($M^3$) | RETENTION DAY | %BOD EFFLUENT (mg./L) |
|---|---|---|---|
| (4) ANAEROBIC POND 1 | 20 x 31 x 4 | 4 | 60% (320) |
| (5) FACULTATIVE POND 1 | 37 x 67 x 3 | 18.6 | 40% (192) |
| (6) FACULTATIVE POND 2 | 37 x 67 x 3 | 19.20 | 30% (134) |
| (7) FACULTATIVE POND 3 | 37 x 67 x 3 | 16.75 | 30% (94) |
| (8) FACULTATIVE POND 4 | 37 x 67 x 3 | 13.05 | 30% (65.8) |
| (9) POLISHING POND | 37 x 67 x 1 | 12 | (≤20) |

APPROX AREA REQUIRED : 20,000$M^2$ (12.5 RAI)

# TYPICAL LAYOUT FOR WASTED WATER 200 $M^3$/DAY




## 2. AERATED LAGOON SYSTEM

① RECEIVING/FILTER POND
② STONE/SAND DROP CHANNEL
③ FILTER SCREEN

④ AERATED LAGOON 1
⑤ AERATED LAGOON 2
⑥ POLISHING POND

| SIZE W x L x D ($M^3$) | RETENTION DAY | Oz (kg/D.) | POWER (HP) | NO ROTER |
|---|---|---|---|---|
| 18 x 28 x3.5 | 5 | 256 | 20 | 4 |
| 18 x 28 x3.5 | 5 | 43 | 10 | 2 |
| 18 x 28 x 1.5 | 3 | - | - | - |

APPROX AREA REQUIRED : 3,600$M^2$ (2.25 RAI)

## 3.) PROPOSED GAS EMISSION TREATMENT SYSTEM
## PAW SAN RICE INTERNATIONAL CO., LTD.
## MODERN PARBOILED RICE MILL PROJECT

### 1) Design Parameter

Gas emission generated by the husk combustion for drying heat energy, steam boiler, and Gasification for electric power generation

According to the experimental results on the thermal efficiency Table 1. And carbon conversion efficiency Table 2.

### 2) Design Criteria

Under Thai Industrial standard of emission (in attachment)

### 3) Solution for Gas emission treatment

Complete combustion process will be the solution of flue gas emission treatment.

Complete combustion will comprised of

- Oxygen not less than 5 times of husk fuel (Provide more air flow)
- Fuel : Husk must be fresh, dried and pure without foreign matter (Keep in the room)
- Temperature must be at the burning point (Reduce the start up time and eliminate the smoke by using gasoline or)

**************************

Table 1. Experimental results on thermal efficiency of Cyclonic Hnsk Furnace

| Height of ash (cm) | Start up time (min) | Feed rate of rice husk (kg/h) | Ambient temp. (°C) | Average air temp. at blower inlet (°C) | Average air temp. at furnace exit (°C) | Eff of system (%) | Eff of furnace (%) |
|---|---|---|---|---|---|---|---|
| 30 | 10 | 127 | 34 | 293 | - | 64 | - |
| 45 | 13 | 133 | 34 | 296 | - | 62 | - |
| 50 | 10 | 126 | 33 | 296 | - | 65 | - |
| 60 | 15 | 143 | 32 | 297 | 504 | 58 | 59 |

Table 2. Experimental results on carbon conversion efficiency of Cyclonic

| Height of ash | Flue gas after combustion | | | | Unburnt carbon | Ash | Carbon conversion Eff |
|---|---|---|---|---|---|---|---|
| | CO | $NO_x$ | $SO_x$ | $O_2$ | | | |
| (cm) | (ppm) | (ppm) | (ppm) | (%) | (%) | (kg) | (%) |
| 30 | 1,300-1,600 | 50-60 | 9-11 | 18 | 19.3 | 101.0 | - |
| 45 | 1,700-1,800 | 40-50 | 10-20 | 18 | 12.6 | 93.0 | - |
| 50 | 1,600-1,900 | 40-60 | 6-10 | 18 | 24.8 | 102.5 | - |
| 60 | 1,000-1,800 | 30-60 | 3-5 | 18 | 14.9 | 108.0 | 90 |

## 4.) PROPOSED BRAN & DUST CYCLONE. COLLECTING SYSTEM PARBOILED-RICE MILLING PRECESS



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့


တယ်လီဖုန်း- ၀၁-၆၅၇၈၂၄
ဖက်(စ်)- ၀၁- ၆၅၇၈၂၄


စာအမှတ်၊ ရက - ၉ / ၁ / ၂၀၁၆ ( [illegible] )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၂၇ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်နေသော Paw Sann Rice International Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ Paw Sann Rice International Co., Ltd. ၏ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၁၂ ရက်နေ့ ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ-၉၂၆/၂၀၁၃ ဖြင့် တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်အတန်းမြင့် ပြုတ်ဆန် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိထားသော Paw Sann Rice International Co., Ltd. မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ကျင်းပသော (၂/၂၀၁၆) ကြိမ်မြောက် ကော်မရှင် အစည်းအဝေးမှ Paw Sann Rice International Co., Ltd. မှ ၃၀ % နှင့် စင်္ကာပူနိုင်ငံ အခြေစိုက် Agrastar Pte Ltd. မှ ၇၀ % ဖြင့် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲ ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကော်မရှင်ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ရရှိရေးအတွက် အဆိုပြုချက် တင်ပြရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မန်နေဂျင်းဒါရိုက်တာ
**Paw Sann Rice International Co., Ltd.**
မိတ္တူကို
ရုံးလက်ခံ / မျှောစာတွဲ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)
စာအမှတ် ၆၂၆/ရှ၁ဘ
ရက်စွဲ ၂၆.၈.၂၀၁၃

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၂၆ /၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဩဂုတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးသူရမြင့်

(ခ) အဘ အမည် ဦးစန်းမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ် ၁၂/ဗဟန (နိုင်) ၀၀၁၅၁၈

(ဃ) နေရပ်လိပ်စာ တိုက်(၁၂+၁)၊ အခန်းအမှတ်(၆၀၈)၊ ပါရမီကွန်ဒို၊ ပါရမီလမ်း၊ (၁၆)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း Paw Sann Rice International Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်ရက်လျှင်စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်အတန်းမြင့် ပြုတ်ဆန်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မျှုးချောင် ကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ ကွင်းအမှတ်(၂၅၃-က)ဦးပိုင် အမှတ် (၈+က/၉)၊ A,B,C,D ရှိ မြေ(၄.၂၅)ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၅၀၀၀.၀၀(သန်း) (အမေရိကန်ဒေါ်လာ(၅.၀၃၈)သန်းအပါအဝင် စုစုပေါင်းကျပ်သန်း ငါးထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 004616

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် .....၃၇၃၆...... / ၂၀၁၂ - ၂၀၁၃

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ........ ပေါ်ဆန်း ဆန်စပါး အပြည်ပြည်ဆိုင်ရာ ........ ကုမ္ပဏီ လီမိတက် ........................ အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ..၂၀၁၂.. နှစ်၊ ....ဒီဇင်ဘာ.... လ၊ ..၁၀.... ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ..၂၀၁၅.. နှစ်၊ ....ဒီဇင်ဘာ.... လ၊ ..၃၀... ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..................3736......... of 2012 -2013

I hereby certify that the tenure of .....PAW SANN RICE INTERNATIONAL COMPANY LIMITED.................................................incorporated under the Myanmar Companies Act on ............................................10th DECEMBER, 2012...... is renewed with effected from .............................................30th DECEMBER, 2015.......

**For Director General**
**(Nilar Mu, Director)**
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးသူရမြင့် (၁၂/ဗဟန(နိုင်)၀၀၁၅၁၈)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၂၅၈/၂၆၂)၊၁၁-လွှာ၊Classic Strand Condo ၊ ကမ်းနားလမ်း၊ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၃၇၁၆၂၉

(ဃ) ဒါရိုက်တာများ အမည်စာရင်း- ၁။ ဦးဟန်လင်းထွန်း ၉/စကန(နိုင်)၀၅၅၁၉၈

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည် မှတ်ပုံတင်ရက်စွဲ ( ၁၀-၁၂-၂၀၁၅ ) မှ ( ၉-၁၂-၂၀၂၀ ) ရက်နေ့အထိ (၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင် အဆိုပြုတင်ပြထားသော လုပ်ငန်း ရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီး ဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့်ရှိမည်ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲလုပ်ကိုင်လိုပါက ပြောင်းလဲလုပ်ကိုင်လိုသည့် လုပ်ငန်းရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန် အတွက် ဒါရိုက်တာအဖွဲ့(BOD) ၏ အထူးအစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။

လာရောက်ထုတ်ယူသည့်ရက်စွဲ- - 5 JAN 2016

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မော်မော်စိုး၊ ဒုတိယညွှန်ကြားရေးမှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀ / ၃ - ၁ /အစိုးရ (ဧရာဝတီ)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇူလိုင်လ ၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရကာ-၆(က)/မ-၁၃၂၀/၂၀၁၃(၃၆၀၇)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရကာ-၆(က)/မ-၁၃၂၀/၂၀၁၃(၆၄၀၀)

၁။ Paw Sann Rice International Co.,Ltd မှ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ တောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ ကွင်းအမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ် (၈+က/၉) A,B,C,D, ရှိမြေ(၄. ၂၅)ဧကအား ငှားရမ်းပြီးဆန်စက်တည်ထောင်၍အဆင့်အတန်းမြင့် ပြုတ်ဆန်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား စိစစ်ပြီးသဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ

ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာအနီးတွင် ယခင်ကပင် ဆန်စက်များတည်ရှိသည့်နေရာဖြစ်ပြီး ဒေးဒရဲမြို့နယ်၊ တိုးမြစ်နံဘေးတွင် တည်ရှိပါသဖြင့် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

Paw Sann Rice International Co.,Ltd မှ အဆင့်မြင့်ဆန်စက်တည်ဆောက်ခြင်းအားဖြင့် ဒေသခံ(၃၀၀)မှ (၅၀၀)ခန့်အထိ အလုပ်အကိုင်အခွင့်အလမ်းရရှိနိုင်ပါသဖြင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

Paw Sann Rice International Co.,Ltd မှ အဆင့်မြင့်ဆန်စက်တည်ဆောက်မည့် မြေနေရာနှင့်ပတ်သတ်၍ ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အပေါ် ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်။

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် တိုင်းဒေသကြီးအတွင်း ဒေသခံပြည်သူများလူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်စေရေးအတွက် လူအများအလုပ်အကိုင်အခွင့်အလမ်းရရှိစေမည့် စက်ရုံအလုပ်ရုံများတည်ဆောက်ခြင်းအပေါ် အားပေးကူညီလျက်ရှိပါသဖြင့် ယခုတည်ဆောက်မည့် Paw Sann Rice International Co.,Ltd ၏အဆင့်မြင့်ဆန်စက်တည်ဆောက်ခြင်းအား ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြုသင့်ပါကြောင်း အကြံပြုတင်ပြအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို

Paw Sann Rice International Co.,Ltd
လှည့်လည်စာတွဲ
ရုံး လက် ခံ

Attachment No (1)&(2)

010397

9-1-16

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

ပေါ်ဆန်း ဆန်စပါး အပြည်ပြည်ဆိုင်ရာ **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memoradum Of Association

*AND*

# Articles Of Association

*OF*

PAW SANN RICE INTERNATIONAL **COMPANY LIMITED**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

ပေါ်ဆန်း ဆန်စပါး အပြည်ပြည်ဆိုင်ရာ **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ **ကုမ္ပဏီ၏ အမည်သည်** ပေါ်ဆန်း ဆန်စပါး အပြည်ပြည်ဆိုင်ရာ **ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါ အတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ယူအက်စ်ဒီ ၁၃,၅၀၀,၀၀၀.၀၀ (အမေရိကန် ဒေါ်လာ တစ်ဆယ့်သုံးသန်း ငါးသိန်း တိတိ) ဖြစ်၍ ယူအက်စ်ဒီ ၁.၀၀ (အမေရိကန် ဒေါ်လာ တစ် တိတိ) တန် အစုရှယ်ယာပေါင်း (၁၃,၅၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကိုကုမ္ပဏီ၏စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေအထွေထွေ ပြဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် ဆောင်ရွက်လုပ်ကိုင်ရန် ရည်ရွယ်ထားသော ထုတ်လုပ်မှုလုပ်ငန်းများမှာ

၁။ ကုမ္ပဏီသည် ထုတ်လုပ်မှုလုပ်ငန်းအဖြစ် " အဆင့်အတန်းမြင့်ပေါင်းဆန် ထုတ်လုပ်ခြင်းလုပ်ငန်းများ " ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် ဆောင်ရွက်ရန်ဖြစ်ပါသည်။

၂။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

**ခြွင်းချက်။** ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ၊ ခွင့်ပြု ထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

အောက်တွင်အမည်၊နိုင်ငံသား၊နေရပ်နှင့်အကြောင်းအရာစုံလင်စွာပါသောဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့်ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | **Agra Star Pte. Ltd (Incorporated in Singapore)**<br>**Represented by :-** | | 175,000 | |
| | **(a) U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | | |
| | **(b) Mr. Kevin Mckenzie**<br>19 Cairnhill Circle # 06-05, Light @ Cairnhill, The Singapore 229768.<br>(Businessman) | **Canadian**<br>**PP No. GA 274731** | | |
| 2. | **U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | 52,500 | |
| 3. | **U Yin Htwe**<br>No.(216), 8th Floor, Room No.B-7, Bo Myat Tun Housing, Maha Bandoola Road, Pazuntaung Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/AhLaNa (Naing) 038316** | 12,500 | |
| 4. | **U Han Lin Tun**<br>Yone Pin Kone Village, Latpan Hla Village Tract, Sintku Township, Yangon Region.<br>(Businessman) | **Myanmar**<br>**9/SaKaNa (Naing) 055198** | 10,000 | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၊ ( ၁၁ ) ရက်။

အထက်ပါလက်မှတ်ရှင်များသည်ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ပေါ်ဆန်း ဆန်စပါးအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက် ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ၁၇(၂)တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ကုမ္ပဏီကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ယူအက်စ်ဒီ ၁၃,၅၀၀,၀၀၀.၀၀ ( အမေရိကန်ဒေါ်လာ တစ်ဆယ့်သုံးသန်းငါးသိန်း တိတိ) ဖြစ်၍ ယူအက်စ်ဒီ ၁.၀၀ (အမေရိကန်ဒေါ်လာ တစ် တိတိ) တန် အစုရှယ်ယာပေါင်း (၁၃,၅၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေ ရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင်ရှိစေရမည်။ ၎င်း ဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကိုအထွေထွေမန်နေဂျာသို့မဟုတ်ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့်အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ်ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်းအတွက်ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးကတစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှုမပြုလုပ်သမျှဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) U Thura Myint (Myanmar)
(၂) Mr. Kevin Mckenzie (Canadian)
(၃) U Yin Htwe (Myanmar)
(၄) U Han Lin Tun (Myanmar)
(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ်အချိန်အခါအလိုက်သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး( - ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည်မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန်တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင်မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့် ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီ ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသောအာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်ကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများ အတွက်ပြေစာများ ပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆက်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စားမည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်နှီးမြှုပ်နှံ ထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်)ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသောမည်သည့်အရာရှိသို့မဟုတ်ပုဂ္ဂိုလ်ကိုမဆိုအတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီး ကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းဝေးကြီးနှင့်တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌)ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့်အစုရှင်အရေအတွက် မတတ်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော ) အစုရှင်များ ကိုယ်တိုင်တတ်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေတွက်ဖြစ် စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေ များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသို ထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများကသင့်လျော်သည်ဟုထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့် အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲ ဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင်အမည်၊နိုင်ငံသား၊နေရပ်နှင့်အကြောင်းအရာစုံလင်စွာပါသောဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့်ယှဉ်တွဲ၍ ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | **Agra Star Pte. Ltd (Incorporated in Singapore)**<br>**Represented by :-** | | 175,000 | |
| | **(a) U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | | |
| | **(b) Mr. Kevin Mckenzie**<br>19 Cairnhill Circle # 06-05, Light @ Cairnhill, The Singapore 229768.<br>(Businessman) | **Canadian**<br>**PP No. GA 274731** | | |
| 2. | **U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | 52,500 | |
| 3. | **U Yin Htwe**<br>No.(216), 8th Floor, Room No.B-7, Bo Myat Tun Housing, Maha Bandoola Road, Pazuntaung Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/AhLaNa (Naing) 038316** | 12,500 | |
| 4. | **U Han Lin Tun**<br>Yone Pin Kone Village, Latpan Hla Village Tract, Sintku Township, Yangon Region.<br>(Businessman) | **Myanmar**<br>**9/SaKaNa (Naing) 055198** | 10,000 | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၊ (၁၁) ရက်။

အထက်ပါလက်မှတ်ရှင်များသည်ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## PAW SANN RICE INTERNATIONAL COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is " **PAW SANN RICE INTERNATIONAL COMPANY LIMITED.** "

II. The registered office of the Company will be situated in the Republic of the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is US$ 13,500,000.00 /- ( United State Dollar Thirteen Million and Five Hundred Thousand Only ) divided into ( 13,500,000 ) Shares of US$ 1.00 ( United State Dollar One Only ) each, with power in General Meeting either to increase, reduce or alter such Capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

# INTENDED MANUFACTURING BUSINESS ACTIVITIES TO BE CARRIED OUT IN THE REPUBLIC OF THE UNION OF MYANMAR

(1) Company shall carry out the Manufacturing business activities for " High Quility Parboiled & Premium Rice Mill " in the Republic of the Union of Myanmar.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO*** : Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr No | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **Agra Star Pte. Ltd (Incorporated in Singapore)**<br>**Represented by :-** | | 175,000 | |
| | **(a) U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | | [signature] |
| | **(b) Mr. Kevin Mckenzie**<br>19 Cairnhill Circle # 06-05, Light @ Cairnhill, The Singapore 229768.<br>(Businessman) | **Canadian**<br>**PP No. GA 274731** | | [signature] |
| 2. | **U Thura Myint**<br>Building (12+1), Room No.608, Parami Condo, Parami Road, No.(16) Ward, Hlaing Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/BaHaNa (Naing) 001518** | 52,500 | [signature] |
| 3. | **U Yin Htwe**<br>No.(216), 8th Floor, Room No.B-7, Bo Myat Tun Housing, Maha Bandoola Road, Pazuntaung Township, Yangon Region.<br>(Businessman) | **Myanmar**<br>**12/AhLaNa (Naing) 038316** | 12,500 | [signature] |
| 4. | **U Han Lin Tun**<br>Yone Pin Kone Village, Latpan Hla Village Tract, Sintku Township, Yangon Region.<br>(Businessman) | **Myanmar**<br>**9/SaKaNa (Naing) 055198** | 10,000 | [signature] |

**Yangon. Dated the** 11th **day of** January **, 2016.**

*It is hereby certified that the persons mentioned above put their signatures in my presence.*

[signature]

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# PAW SANN RICE INTERNATIONAL COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   (a) *The member of the Company, exclusive of persons who are in the Employment of the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

CAPITAL AND SHARES

3. The Authorised Capital of the Company is US$ 13,500,000.00 ( United State Dollar Thirteen Million Five Hundred Thousand Only ) divided into ( 13,500,000 ) shares of US$ 1.00 ( United State Dollar One Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the member in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 15 ).

The First directors shall be:-

| | |
|---|---|
| (1) U Thura Myint | (Myanmar) |
| (2) Mr. Kevin Mckenzie | (Canadian) |
| (3) U Yin Htwe | (Myanmar) |
| (4) U Han Lin Tun | (Myanmar) |
| (5) | |

8. The Director may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the dispatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constitued.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power: -

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future)as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time( not being more than fifteen month after the holding of the last preceding general meeting )and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital(not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to : -

(1) *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

(2) *all sales and purchases of goods by the Company;*

(3) *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

